**PROPOSAL FORM (1) RE-ITEM 12(f)**

**FOREIGN EXCHANGE SAVINGS & LOCAL KYAT SAVINGS**

*Exhibit No. XI*

| PARTICULARS | UNIT | Year 1 | Year 2 | Year 3 | Year 4 | Year 5 |
|---|---|---|---|---|---|---|
| Income in US$ | US$ 000 | 164 | 172 | 180 | 188 | 197 |
| Equivalent in Kyats | Ks 000 | 984 | 1032 | 1080 | 1128 | 1182 |
| Local Income in Kyats | Ks 000 | 50310 | 52826 | 55341 | 57857 | 60372 |
| Total Income in Kyats | Ks 000 | 51294 | 53858 | 56421 | 58985 | 61554 |
| **Foreign Exchange Savings** | | | | | | |
| Earning in US$ | US$ 000 | 164 | 172 | 180 | 188 | 197 |
| Direct Expenses in FE | US$ 000 | 0 | 0 | 0 | 0 | 0 |
| Expenditures in FE | US$ 000 | 20 | 22 | 0 | 28 | 30 |
| Total Expenditure in FE | US$ 000 | 20 | 22 | 0 | 28 | 30 |
| **FE Net Savings** | US$ 000 | **144** | **150** | **180** | **160** | **167** |
| **Local Kyats Savings** | | | | | | |
| Local Income in Kyats | Ks 000 | 50310 | 52826 | 55341 | 57857 | 60372 |
| Total Income in Kyats | Ks 000 | 50310 | 52826 | 55341 | 57857 | 60372 |
| Direct Expenses in Kyat | Ks 000 | 25470 | 26741 | 28011 | 29282 | 30552 |
| Expenditure in Kyat | Ks 000 | 6806 | 7146 | 7486 | 13751 | 14362 |
| Total Expenditures in Kyat | Ks 000 | 32276 | 33887 | 35497 | 43033 | 44914 |
| **Local Kyat Net Savings** | Ks 000 | **18034** | **18939** | **19844** | **14824** | **15458** |

Note: (1) Exchange Rate 1 US$ = Kyat 6.00

(2) DPPV = Deferred Payment Purchase Value.

**PROPOSAL FORM (1) RE-ITEM 12 (e )** (IN MILLION)

**INTERNAL RATE OF RETURN** Exhibit No. XII

| YEAR | INVESTMENT | NET PROFIT | DEPRECIATION | TOTAL CASH IN FLOW | CASH FLOW |
|---|---|---|---|---|---|
| | | | | | |
| 1 | 80.000 | 17.898 | 1.000 | 18.898 | -61.102 |
| 2 | | 18.839 | 1.000 | 19.839 | 19.839 |
| 3 | | 19.924 | 1.000 | 20.924 | 20.924 |
| 4 | | 14.783 | 1.000 | 15.783 | 15.783 |
| 5 | | 15.462 | 1.000 | 16.462 | 16.462 |
| | | | | | |
| TOTAL | 80.000 | 86.906 | 5.000 | 91.906 | 11.906 |

* Formular Internal Rate of Return = (G40:G44)

IRR = 24%

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
အမှတ် (၂) သတ္တုတွင်းလုပ်ငန်း
ရန်ကုန်

နှင့်

## ရွှေ(၂၁)ရာစုကုမ္ပဏီလီမိတက်

တို့၏

သပိတ်ကျင်းမြို့နယ်၊ ကွက်မဒေသ ရွှေလုပ်ကွက် **(KM-61)**
အား
ရွှေသတ္တုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်လုပ်ငန်း

# သဘောတူစာချုပ်

၁၉၉၉ ခုနှစ်၊ လ၊ ( )ရက်၊ ရန်ကုန်မြို့။

## ကန့်သတ်

# မာတိကာ

## ကန့်သတ်



**နောက်ဆက်တွဲများ**

# ရွှေသတ္တုထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသည့်လုပ်ငန်း

## သဘောတူစာချုပ်



ဤသဘောတူစာချုပ်ကို ၁၉၉၉ ခုနှစ်၊ လ၊ ( )ရက်နေ့တွင် ဦးတင်ဝင်း၊ ဦးဆောင်ညွှန်ကြားရေးမှူး၊ ကိုယ်စားပြုသော အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၉)၊ ကံဘဲ့လမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ (နောင်တွင်"သတလ(၂)"ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၄င်းအားဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်။ ) က တစ်ဖက် နှင့် ဒေါ်နန်းအေးထွန်း ( နိုင်ငံသားမှတ်ပုံတင်အမှတ် - ၁၃/လရန(နိုင်) ဝ၉၆၄၈ရ ) ဒါရိုက်တာ ကိုယ်စားပြုသော ရွှေ(၂၁)ရာစုကုမ္ပဏီလီမိတက်(နောင်တွင် "ကန်ထရိုက်တာ" ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၄င်းအားဆက်ခံသူများ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်။ ) က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဖက်သဘောတူချုပ်ဆိုကြပါသည်။

### အပိုင်း (၁)
### ရည်ရွယ်ချက်

၁-၁ အောက်ပါအတိုင်းရည်ရွယ်ချက်ထားရှိပါသည်။

(က) သတလ (၂) မှ လက်ရှိတိုင်းတာသတ်မှတ်ပြီးသော သပိတ်ကျင်းမြို့နယ်၊ ကွက်မဒေသလုပ်ကွက် **(KM-61)** အား ပြည်တွင်းမြန်မာနိုင်ငံသားများဖြင့် ဖွဲ့စည်းထားသော ရွှေသတ္တုထုတ်လုပ်မှုဆိုင်ရာ ကျွမ်းကျင်သူများနှင့်ပူးပေါင်းပြီး တူးဖော်ထုတ်လုပ်ရေးလုပ်ငန်းကို လုပ်ကိုင်ခြင်းအားဖြင့် နိုင်ငံတော်မှသတ္တုထုတ်ကုန် တိုးတက်ရရှိစေရေးနှင့် နိုင်ငံတော်၏ သတ္တုကဏ္ဍဖွံ့ဖြိုးတိုးတက်စေရေး။

(ခ) မန္တလေးတိုင်း၊ သပိတ်ကျင်းမြို့နယ်၊ ရွှေလုပ်ကွက်**(KM-61)** မှ ရွှေသတ္တုတူးဖော်ထုတ်လုပ်ခြင်းအားဖြင့်ဒေသဖွံ့ဖြိုးလာစေရန်နှင့် သတ္တုတူးဖော် ထုတ်လုပ်ခြင်းလုပ်ငန်းဖြင့် အသက်မွေးဝမ်းကျောင်းပြုလုပ်သည့် ကုမ္ပဏီဝန်ထမ်းများနှင့် ဒေသခံပြည်သူတို့ အလုပ်အကိုင်သစ်များရရှိပြီး လူမှုရေး၊ စီးပွားရေး၊ ဖွံ့ဖြိုးတိုးတက်စေရေး။

### အပိုင်း (၂)
### ကိုယ်စားပြုခြင်းနှင့်အာမခံခြင်း

၂-၁ ဤသဘောတူစာချုပ်ကို ချုပ်ဆိုကြသော နှစ်ဖက်အဖွဲ့အစည်း၊ ပုဂ္ဂိုလ်တို့သည် ထိုသို့သဘောတူ စာချုပ်ချုပ်ဆိုနိုင်ရန်အတွက် တည်ဆဲဥပဒေများအရ၊ လုပ်ပိုင်ခွင့်အခွင့်အာဏာနှင့် စီးပွားရေးအရ ခိုင်မာတောင့်တင်းမှုရှိကြသော အဖွဲ့အစည်းများဖြစ်ကြကြောင်းကို အာမခံကြသည်။

## အပိုင်း (၃)
## အဓိပ္ပာယ်ဖွင့်ဆိုချက်

၃-၁ ဤသဘောတူစာချုပ်တွင် နောက်ပိုင်းသုံးစွဲမည့် စကားရပ်များတွင် အဓိပ္ပာယ်ဖွင့်ဆို ချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) သတ္တုရိုင်း **(ORE)** ဆိုသည်မှာ - ရွှေသတ္တုပါဝင်သော သတ္တုရိုင်းကိုဆိုသည်။

(ခ) ရွှေသတ္တုဆိုသည်မှာ - ရွှေအနည်းဆုံး(၁၄)ပဲရည်နှင့်အထက်ချွတ်စင်ပြီးရွှေ သတ္တုကိုဆိုလိုသည်။

(ဂ) ဆက်စပ်သတ္တုဆိုသည်မှာ -ဘူမိဗေဒအနေအထားအရ ရွှေသတ္တုတူးဖော်သန့်စင်ရာတွင် ပါဝင်နိုင်သော သတ္တုများကိုဆိုလိုသည်။ သို့ရာတွင်ယင်းစကားရပ်၌ ပလတ်တီနမ်၊ စိန်၊ ကျောက်မျက်၊ ကျောက်စိမ်းနှင့် မြုပ်နှံထားသော ရှေးဟောင်းအဖိုးတန်ပစ္စည်းများ မပါဝင်စေရ။

(ဃ) ထရိုင်အောင်စဆိုသည်မှာ - ၁.၉၀၄၅ ကျပ်သား (သို့မဟုတ်) ၃၁.၁၀၃ ဂရမ် (သို့မဟုတ်) ၀.၀၃၁၁ ကီလိုဂရမ် (သို့မဟုတ်) ၀.၀၀၀၀၃၁ မက်ထရစ်တန် (သို့မဟုတ်) ၀.၀၆၈ ပေါင်ကို ဆိုသည်။

(င) တန်ချိန်ဆိုသည်မှာ - ဂရမ် ( ၁,၀၀၀,၀၀၀) (သို့မဟုတ်) ကီလိုဂရမ် (၁,၀၀၀) ရှိသော မက်ထရစ်တန်ကို ဆိုသည်။

(စ) ဘဏ္ဍာရေးနှစ်ဆိုသည်မှာ - နှစ်စဉ်ပြက္ခဒိန်နှစ်တစ်နှစ်၏ ဧပြီလဆန်း(၁)ရက် နေ့မှစ၍ နောင်လာမည့်နှစ် မတ်လ (၃၁)ရက် ကုန်ဆုံးသော (၁၂) လတာကာလကိုဆိုသည်။

## အပိုင်း (၄)
## လုပ်ပိုင်ခွင့်ရှိသောလုပ်ကွက်

၄-၁ ဤသဘောတူစာချုပ်အရ၊ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်သည် သပိတ်ကျင်းမြို့နယ်တွင် တည်ရှိပြီး နောက်ဆက်တွဲ(က)တွင် မြေပုံညွှန်းနှင့်တကွ ဖော်ပြထားသည့် ခွင့်ပြုသော ဧရိယာ (၄၅.၅၂) ဧက (စတုရန်းကီလိုမီတာအားဖြင့် စုစုပေါင်း ၀.၁၈၂)၏ နယ်နမိတ် အတိုင်းဖြစ်သည်။

## အပိုင်း (၅)
## စာချုပ်စာတမ်း

၅-၁ ဤသဘောတူစာချုပ်အရ၊ သတ္တုတူးဖော်ထုတ်လုပ်ရေး ခွင့်ပြုသည့်ကာလမှ စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၅)နှစ်ဖြစ်သည်။ ဤသတ်မှတ်ခွင့်ပြုကာလမကုန်ဆုံးမီ (၃)လအလိုတွင် ကန်ထရိုက်တာသည် နောက်ထပ်ကာလတိုးမြှင့်ပေးရန်အတွက် သတလ (၂)သို့ လျှောက်ထားနိုင်သည်။ ဤသဘောတူစာချုပ်အား သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

## အပိုင်း (၆)
## လုပ်ငန်းအတွက် အဆိုပြုတန်ဖိုး

၆-၁ ကန်ထရိုက်တာသည် သပိတ်ကျင်းမြို့နယ်၊ ကွက်မဒေသရွှေလုပ်ကွက်အမှတ် **(KM-61)** အတွက် သတလ(၂)သို့ အဆိုပြုတန်ဖိုးငွေကျပ် (၇၀,၈၀၀,၀၀၀/-) (ကျပ်ခုနစ်ရာ့ရှစ်သိန်းတိတိ) ကို သဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မတိုင်မီ ပေးသွင်းရမည်။

## အပိုင်း (၇)
## ရင်းနှီးမြှုပ်နှံမှုပမာဏ

၇-၁ ကန်ထရိုက်တာသည် ကွက်မဒေသ **(KM-61)** လုပ်ကွက် တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက်ရင်းနှီးမြှုပ်နှံမှုငွေပမာဏအဖြစ် အနည်းဆုံးငွေကျပ် ၁၀,၀၀၀,၀၀၀/- (ကျပ်သိန်းတစ်ရာတိတိ)ကို သုံးပြုရမည်။ ရင်းနှီးမြှုပ်နှံမှု ငွေတစ်ရပ်လုံးကို ကန်ထရိုက်တာမှ ကျခံရမည်။

## အပိုင်း (၈)
## ဘဏ်အာမခံငွေ

၈-၁ ကန်ထရိုက်တာသည် ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မတိုင်မီ ဘဏ်အာမခံငွေအဖြစ်ငွေကျပ် ၁,၀၀၀,၀၀၀/-(ကျပ်ဆယ်သိန်းတိတိ)ကို သတလ(၂)အမည်ဖြင့် သတ်မှတ်ထားသည့် ဘဏ်အာမခံပုံစံအတိုင်း အာမခံထားရှိရမည်။ ဘဏ်အာမခံငွေ ထားရှိခြင်းသည် စာချုပ်သက်တမ်းတိုးမြှင့်သည့် ကာလအထိ သို့မဟုတ် ကန်ထရိုက်တာမှ ဤစာချုပ်ပါ တာဝန်ဝတ္တရားများအားလုံး ဆောင်ရွက်ပြီးစီးသည်အထိ စာချုပ်သက်တမ်း တစ်လျှောက်ထားရှိရမည်။ ဤစာချုပ်ပါ သဘောတူညီချက်များအတိုင်း ဆောင်ရွက်ရန် ကန်ထရိုက်တာမှ ပျက်ကွက်ခဲ့လျှင် အပိုင်း၂၂-၁(ခ)ပါအတိုင်း စာချုပ်အားရပ်စဲ၍ သတလ(၂) မှ ဘဏ်အာမခံငွေအားလုံးကို သိမ်းယူနိုင်သည်။ စာချုပ်သက်တမ်း ကုန်ဆုံးလျှင်သော်လည်းကောင်း၊ ကန်ထရိုက်တာ၏ အပြစ်ကြောင့်မဟုတ်ဘဲ တစ်စုံတစ်ရာသောအကြောင်းကြောင့် နှစ်ဖက်သဘောတူ စာချုပ်ဖျက်သိမ်းလျှင်သော်လည်းကောင်း၊ သတလ(၂)သည် ကန်ထရိုက်တာမှ သတလ(၂)သို့ ပေးရန်ကျန်ရှိသော ကြွေးမြီများကိုနုတ်ယူ၍ ကျန်သော ဘဏ်အာမခံငွေကို ကန်ထရိုက်တာသို့ပြန်ပေးရမည်။ ဘဏ်အာမခံငွေပုံစံကို နောက်ဆက်တွဲ(ခ)ဖြင့် ပူးတွဲထားပါသည်။

## အပိုင်း (၉)
## လုပ်ငန်းအစီအစဉ်

၉-၁ ကန်ထရိုက်တာသည် ကွက်မဒေသ **(KM-61)** လုပ်ကွက်အားတူးဖော်လုပ်ကိုင်မည့် လုပ်ငန်းအစီအစဉ်ကို ဤသဘောတူစာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း(၃၀)အတွင်း သတလ(၂)သို့ တင်ပြရမည်။ လုပ်ငန်းအစီအစဉ်တွင် ရွှေသတ္တုတူးဖော်ခြင်း၊ သန့်စင်ခြင်း နှင့်ချွတ်စင်ခြင်း နည်းများကို ထည့်သွင်းဖော်ပြရမည်။

၉-၂ ကန်ထရိုက်တာသည် သတလ(၂)၏ အတည်ပြုချက်ရရှိပြီးသော လုပ်ငန်းအစီအစဉ်ကို အတည်ပြုချက်ရရှိပြီးသည်နှင့် တပြိုင်နက်စတင်အကောင်အထည်ဖော်ရမည်။ လုပ်ငန်းအစီအစဉ်သည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

## အပိုင်း (၁၀)
## အထွေထွေတာဝန်များ

**ကန်ထရိုက်တာ၏ တာဝန်များ**

၁၀-၁ ကန်ထရိုက်တာသည် အောက်ပါတို့ကို တာဝန်ယူရမည်-

(က) သတလ(၂)သို့ တင်ပြသည့် လုပ်ငန်းအစီအစဉ်အရ သတ္တုထုတ်လုပ်ရာတွင် ကုန်ကျစရိတ်၊ သယ်ယူပို့ဆောင်မှုကုန်ကျစရိတ်နှင့် အခြားအထွေထွေ ကုန်ကျစရိတ် အဝဝကို ကျခံရမည်။

(ခ) ဤစာချုပ်အရတူးဖော်ခွင့်ပြုထားသည့် သတ္တုကိုသာတူးဖော်လုပ်ကိုင်ရမည်။ သတ်မှတ်လုပ်ကွက်အတွင်း ခွင့်ပြုထားသည့်သတ္တုမဟုတ်ဘဲ အခြားသတ္တုများ၊ ကျောက်မျက်ရတနာများတွေ့ရှိပါက အဆိုပါတွေ့ရှိမှုကို သတလ(၂)သို့ချက်ချင်း သတင်းပို့ရမည်။

(ဂ) တူးဖော်ထုတ်လုပ်ခြင်း လုပ်ငန်းများကို ကောင်းမွန်မှန်ကန်သော သတ္တုတူးဖော်ထုတ်လုပ်မှု အတွေ့အကြုံများအပေါ်အခြေခံ၍ အကောင်းဆုံးဖြစ်အောင် လိုက်နာဆောင်ရွက်ရန်နှင့် နောင်ဆက်လက်ဆောင်ရွက်ရမည့် တူးဖော်ထုတ်လုပ်မှု လုပ်ငန်းများကို မထိခိုက်နိုင်အောင်ဆောင်ရွက်ရမည်။

(ဃ) သတ်မှတ်ခွင့်ပြုထားသော လုပ်ကွက်ဧရိယာ၏ အပြင်ဘက်တွင် သတလ(၂)၏ စာဖြင့်ခွင့်ပြုချက်မရရှိဘဲ ရွှေနှင့်အခြားသတ္တုပစ္စည်းများကို တူးဖော်ခြင်းလုံးဝ မပြုလုပ်ရ။

(င) သတ္တုတူးဖော်ထုတ်လုပ်ခြင်းကို တင်ပြအတည်ပြုထားသော အစီအစဉ်များ အတိုင်းသာဆောင်ရွက်ရမည်။

(ဇ) သတ္တုတူးဖော်ခြင်းမှ ထွက်လာသော စွန့်ပစ်ပစ္စည်းများသည် မြစ်၊ ချောင်း၊ အင်းအိုင်များကိုသော်လည်းကောင်း၊ အခြားလုပ်ကွက်များကိုသော်လည်းကောင်း၊ အများပြည်သူနှင့်သက်ဆိုင်သော လမ်းများ၊ အဆောက်အဦးများကိုသော်လည်းကောင်း၊ ညစ်ညမ်းမှု၊ ပိတ်ဆို့မှုနှင့် အခြားပတ်ဝန်းကျင်တွင် ညစ်ညမ်းထိခိုက်မှုများ မရှိစေရန်အတွက် ဆောင်ရွက်ရမည်။

(ဆ) သတ္တုတူးဖော်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ကုန်ထုတ်စွမ်းအားအပြည့်အဝ ရရှိနိုင်ရေးအတွက် လုပ်ငန်းကျွမ်းကျင်သူများကို လုံလောက်စွာခန့်ထားရမည်။

(ဇ) လုပ်ငန်းအစီအစဉ်များကိုဆောင်ရွက်ရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရမှ ပြဋ္ဌာန်းထုတ်ပြန်ထားသော သတ္တုတွင်းဆိုင်ရာ ဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်းများ၊ အမိန့်ကြော်ငြာစာများ၊ ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်၊

(ဈ) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းသို့ ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့် သတ္တုတူးဖော်မှုလုပ်ငန်းအတွက် အသုံးပြုရမည့် စက်ပစ္စည်းများ၊ ယာဉ်ယန္တရားများနှင့် လုပ်ငန်းနှင့်သက်ဆိုင်သော လုပ်ငန်းသုံးပစ္စည်းများအား တည်ဆဲ စည်းမျဉ်း၊ စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ဖြင့် ပြည်ပမှ တင်သွင်းခွင့်ရှိသည်။

(ည) ပြည်ပမှတင်သွင်းလာသည့် ပစ္စည်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သတလ(၂)၏ သဘောတူညီမှုမရဘဲ မြန်မာနိုင်ငံအတွင်းရောင်းချခြင်းမပြုရ။

(ဋ) သတ္တုတူးဖော်ထုတ်လုပ်ခြင်း၊ သန့်စင်ခြင်း၊ ချက်စင်ခြင်းနှင့် သယ်ယူပို့ဆောင်ခြင်းတို့နှင့်ပတ်သက်သည့် လစဉ်အစီရင်ခံစာကို နှစ်ဖက်သဘော တူပုံစံများဖြင့် ဖြည့်သွင်း၍ မိတ္တူ(၁)စောင်ကို သတလ(၂)သို့ ပေးပို့ရမည်။

(ဌ) ကျွမ်းကျင်မှုဆိုင်ရာ သုံးသပ်ချက်များပါဝင်သော သုံးလပတ်နှင့် နှစ်ချုပ်အစီရင်ခံစာများကိုလည်း သတလ(၂)သို့ အချိန်မှန်မှန် အစီရင်ခံတင်ပြရမည်။

(ဍ) တူးဖော်ထုတ်လုပ်သည့်လုပ်ငန်းကြောင့် ဒေသတွင်းတည်ရှိသော လယ်ယာ၊ မြေ၊ အိမ်၊ ခြံတို့နှင့်ပတ်သက်၍ ထိခိုက်မှုရှိလျှင် သက်ဆိုင်ရာအာဏာပိုင်များ သတ်မှတ်ပေးထားသောတန်ဖိုးကို လျော်ကြေးအဖြစ်ပေးချေရမည်။

(ပ) ကန်ထရိုက်တာသည် ရွှေသတ္တုကိုသန့်စင်ရာ၌ အနည်းဆုံး (၁၄)ပဲရည် အဆင့်ထိ သန့်စင်ပြီး ရွှေသတ္တုအရည်အသွေးကို အာမခံရမည်။

(ဏ) ထုတ်လုပ်သည့် လုပ်ငန်းစဉ် စတင်သည့်အချိန်မှစ၍ စီမံခန့်ခွဲရေးကော်မတီက အတည်ပြုထားသည့် သစ္စာထုတ်လုပ်မှု လုပ်ငန်းစီမံချက်ပါ လျာထားချက်များ အတိုင်းတိုးချဲ့ ထုတ်လုပ်ရမည်။

(တ) ခွင့်ပြုသော ဧရိယာနယ်နိမိတ်အတွင်းရှိ သစ်ပင်များကို သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ ခုတ်လှဲခြင်းမပြုရ၊ သစ်ပင်ခုတ်လှဲရန် လိုအပ်ပါက သစ်တော ဦးစီးဌာန၏ ခွင့်ပြုချက်ရယူရမည်။

(ထ) တူးဖော်ထုတ်လုပ်ခြင်းကြောင့် ဖြစ်ပေါ်လာသည့်ကျင်းများကို ပြန်လည်မြေဖို့ ပေးရန် နှင့် သစ်ပင်စိုက်နိုင်သည့် အခြေအနေရရှိအောင် ဆောင်ရွက်ပေးရန်နှင့် စိုက်ပျိုးသည့် ကုန်ကျစရိတ်ကို ကျခံပေးရမည်။

(ဒ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးအတွက် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုမဖြစ်စေရန် လိုအပ်သည်များကို ဆောင်ရွက်ပေးရမည်။

**သတလ (၂)၏ တာဝန်များ**

၁၀-၂ သတလ(၂)သည် အောက်ပါတို့ကို တာဝန်ယူရမည်-

(က) ဤသဘောတူစာချုပ်ကိုလက်မှတ်ရေးထိုးပြီးသည့်နေ့တွင် လုပ်ပိုင်ခွင့်ပါမစ်ကိုထုတ်ပေး ရမည်။

(ခ) ကန်ထရိုက်တာမှ တင်ပြလာသော လုပ်ငန်းအစီအစဉ်ကို ရက်ပေါင်း (၃၀)အတွင်း စစ်ဆေးအတည်ပြုပေးရမည်။

(ဂ) သစ္စာတူးဖော်ထုတ်လုပ်ရာတွင် ကန်ထရိုက်တာမှ ကျွမ်းကျင်မှုဆိုင်ရာ အကူအညီ များတောင်းခံလာပါက သင့်တင့်သော အခကြေးငွေဖြင့်ကူညီဆောင်ရွက်ပေးရမည်၊

(ဃ) သတလ(၂)သည် လုပ်ငန်းထူထောင် ထုတ်လုပ်မှုအတွက် လိုအပ်သလို လမ်းညွှန် ကြီးကြပ်မှု၊ စစ်ဆေးမှုနှင့် အကြံပြုမှုများကို လုပ်ဆောင်ပေးရမည်။

(င) ကန်ထရိုက်တာမှ အကူအညီတောင်းလာပါက လုပ်ငန်းသုံးယမ်းနှင့် အပေါင်းပါ ဆက်စပ်ပစ္စည်းများနှင့် အခြားပံ့ပိုးနိုင်သည်များကို အခကြေးငွေရယူပြီးပံ့ပိုးနိုင်သည်။

## အပိုင်း (၁၁)
## ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားခြင်း

၁၁-၁ ထုတ်လုပ်ရရှိသော ရွှေသတ္တုများကို သတလ (၂)နှင့် ကန်ထရိုက်တာတို့သည် အောက်ပါအတိုင်း လစဉ်အချိုးကျခွဲဝေခံစားရမည်-

| **ဓါတ်သတ္တုခွန်** | + | **သတလ (၂)** | = | **စုစုပေါင်း** | : | **ကန်ထရိုက်တာ** |
|---|---|---|---|---|---|---|
| ၅% | + | ၂၀% | = | ၂၅% | : | ၆၅% |

၁၁-၂ သတလ(၂)သည် ဓါတ်သတ္တုခွန် ၅ ရာခိုင်နှုန်းကို စာချုပ်အပိုဒ် ၁၇(၁)အရ တန်ဘိုးသင့်ပြီး မြန်မာကျပ်ငွေဖြင့် သတ္တုတွင်းဦးစီးဌာနသို့ ပေးသွင်းရမည်။

၁၁-၃ သတလ(၂)မှ အချိုးကျရရှိသည့် ရွှေသတ္တုစင်များအား မိမိဆန္ဒအတိုင်း သယ်ယူခြင်း၊ ရောင်းချခြင်းကို လွတ်လပ်စွာဆောင်ရွက် နိုင်ခွင့်ရှိသည်။

၁၁-၄ ကန်ထရိုက်တာမှ အချိုးကျရရှိသည့် ရွှေသတ္တုစင်များအား ပြည်တွင်း၌ မိမိဆန္ဒအတိုင်း သယ်ယူခြင်း၊ ရောင်းချခြင်းကို လွတ်လပ်စွာဆောင်ရွက်နိုင်ခွင့်ရှိသည်၊

၁၁-၅ ကန်ထရိုက်တာမှ အချိုးကျရရှိသည့် ရွှေသတ္တုစင်များအား ပြည်ပသို့တင်ပို့ ရောင်းချ လိုပါက သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်နိုင်ခွင့်ရှိသည်။

## အပိုင်း (၁၂)
## သိုလှောင်ခြင်း

၁၂-၁ ကန်ထရိုက်တာသည် သန့်စင်ပြီးသော ရွှေသတ္တုစင်များကို သတ်မှတ်ထားသည့် လုံခြုံရေး စိတ်ချရသောနေရာ၊ သိုလှောင်ခန်း၊ အာမခံသေတ္တာတွင် သေချာစွာထည့်သွင်း ထားရမည်။ ယင်းသို့သိုလှောင်သိမ်းဆည်းထားသော နေရာကိုသော့ခလောက်နှစ်လုံး ခတ်သည့်စံနစ် အသုံး ပြု၍ သတလ(၂)နှင့် ကန်ထရိုက်တာတို့က သော့တစ်ချောင်းစီ ထိန်းသိမ်းထားကြရမည်။ သိုလှောင်ခန်း အာမခံသေတ္တာဖွင့်/ပိတ်ခြင်းကို နှစ်ဖက်အတူတကွ ဆောင်ရွက်ရမည်။

## အပိုင်း (၁၃)
## လွှဲပြောင်းခြင်း

၁၃-၁ သတလ(၂)မှ အချိုးကျရရှိမည့် ရွှေသတ္တုများကို သတလ(၂)မှ သတ်မှတ်ထားသော နေရာ တွင် ကန်ထရိုက်တာမှ လွှဲပြောင်းပေးရမည်။

## အပိုင်း (၁၄)
## အခွန်၊ အကောက်များ

၁၄-၁ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရမှ အခါအားလျော်စွာ သတ်မှတ်ပြဋ္ဌာန်းထားသော အခွန်၊ အကောက်များကို ကန်ထရိုက်တာမှ ပေးဆောင်ရမည်။

၁၄-၂ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ ပြင်ပတွင်ပေးရန်ရှိသော အခွန်၊ အကောက်များကို ကန်ထရိုက်တာမှ ပေးဆောင်ရမည်။

၁၄-၃ ကန်ထရိုက်တာသည် တည်ဆဲဥပဒေများအရ ကန်ထရိုက်တာ၏ဝန်ထမ်းများမှ ပေးဆောင်ရမည့်ဝင်ငွေခွန်အပါအဝင် အခြားအခွန်အခများကို တာဝန်ယူ ဆောင်ရွက်ပေးရမည်။

၁၄-၄ ကန်ထရိုက်တာအနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိရေးအတွက် သတလ(၂)က ကူညီဆောင်ရွက်ပေးရမည်။

၁၄-၅ မြန်မာ့သတ္တုတွင်းဥပဒေအရ ပေးဆောင်ရန်ရှိသည့် ဤသဘောတူစာချုပ်အရ လုပ်ပိုင်ခွင့်ရှိသော လုပ်ကွက်ဧရိယာအတွက် ပုံသေမြေငှားရမ်းခ **(Dead Rent)** ကို တစ်စတုရန်းကီလိုမီတာလျှင် ကျပ် (၆၀၀၀ိ/-)နှုန်းဖြင့် စာချုပ်သက်တမ်းနှစ်၏ နှစ်အစမှ (၃)လအတွင်း ကန်ထရိုက်တာမှ နှစ်စဉ်ပေးဆောင်ရမည်။

## အပိုင်း (၁၅)
## အာမခံထားရှိခြင်း

၁၅-၁ ကန်ထရိုက်တာသည် မြန်မာ့အာမခံဥပဒေအရလိုအပ်သော အာမခံများထားရှိရန်တာဝန်ရှိသည်။

## အပိုင်း (၁၆)
## ငွေပေးချေခြင်း

၁၆-၁ ဤသဘောတူစာချုပ်အရ နှစ်ဦးနှစ်ဖက်အပြန်အလှန် ကျပ်ငွေဖြင့် ပေးရန်ရှိသောငွေများကို ပေးချေရန်ရောက်သည့်နေ့မှ ရက်ပေါင်း (၃၀)အတွင်း ပေးချေရမည်။

## အပိုင်း (၁၇)
## သတ္တုတန်ဖိုးသင့်ခြင်း

၁၇-၁ ထုတ်လုပ်သည့်ရွှေသတ္တုစင်နှင့်နှစ်ကုန်လက်ကျန် ရွှေသတ္တုစင်များအတွက်တန်ဖိုး သတ်မှတ်ရန်လိုအပ်ပါက ကမ္ဘာ့ရွှေဈေးနှုန်းဖြင့် မြန်မာရွှေဈေးနှုန်းအပေါ်မူတည်၍ သတ်မှတ်ရမည်။

## အပိုင်း (၁၈)
## အငြင်းပွားခြင်းနှင့် စေ့စပ်ညှိနှိုင်းဆောင်ရွက်ခြင်း

၁၈-၁ သတလ(၂)နှင့် ကန်ထရိုက်တာသည် စာချုပ်နှင့်ပတ်သက်ပြီး အငြင်းပွားမှုဖြစ်ပါက နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ဖြေရှင်းရမည်။ ရက်ပေါင်း(၉၀)အတွင်း ညှိနှိုင်း၍ မရပါက ရွှေဖက်စပ်ဗဟိုကြီးကြပ်ကော်မတီမှတဆင့် သတ္တုတွင်းဝန်ကြီးဌာနသို့တင်ပြ၍ အဆုံးအဖြတ်ခံယူရမည်။ သတ္တုတွင်းဌာနဝန်ကြီး၏ ဆုံးဖြတ်မှုကို နှစ်ဖက်မှ ကျေအေးစွာ လိုက်နာခံယူရမည်။

## အပိုင်း (၁၉)
## အလုပ်ခန့်ထားခြင်း

၁၉-၁ ကန်ထရိုက်တာသည်လုပ်ငန်းအတွက် အလုပ်ခန့်ထားရာ၌ တည်ဆဲစည်းမျဉ်း၊ ဥပဒေများအရ ခန့်ထားရမည်။ ထိုသို့ခန့်ထားရာတွင် အပိုဒ် ၁၉-၂ ပါ ခန့်ထားမှုများမှအပ သတ္တုတွင်းရှိရာနယ်မြေရှိ ဒေသခံ မြန်မာနိုင်ငံသားများကို ဦးစားပေး၍ အလုပ်ခန့်ထားရမည်။

၁၉-၂ ကန်ထရိုက်တာသည် သတလ(၂)၏ ဝန်ထမ်းများအား ကန်ထရိုက်တာ၏ ဝန်ထမ်းများအဖြစ်ခန့်ထားလိုပါက သတလ(၂)၏ သဘောတူညီချက်ဖြင့် ခန့်ထားနိုင်သည်။ ဝန်ထမ်းများ၏လစာ အကျိုးခံစားခွင့်နှင့် ထောက်ပံ့ကြေးငွေတို့ကို ကန်ထရိုက်တာမှ ပေးရမည်။ ဝန်ထမ်းများ၏လစာ အကျိုးခံစားခွင့်နှင့် ထောက်ပံ့ကြေးငွေကို နှစ်ဦးနှစ်ဖက်မျှတစွာ ညှိနှိုင်းထားသည့် လျော်ကန်သင့်မြတ်သော နှုန်းထားဖြင့် ခန့်ထားပေးရမည်။

၁၉-၃ ကန်ထရိုက်တာသည် လုပ်သားများ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး၊ နေထိုင်စားသောက်ရေး၊ ဆေးဝါးကုသရေးစသည့် လူမှုရေးကိစ္စရပ်များနှင့် သက်သာချောင်ချိရေးကိစ္စရပ်များကို စီစဉ်ပေးရမည်။

၁၉-၄ အလုပ်သမားဆိုင်ရာ ဥပဒေများအရ အလုပ်သမားများ၏ ရပိုင်ခွင့်များကို ကန်ထရိုက်တာ မှ တာဝန်ယူရမည်။

## အပိုင်း (၂၀)
## စီမံခန့်ခွဲခြင်း

၂၀-၁ ကွက်မဒေသ **(KM-61)**လုပ်ကွက် ရွှေဖက်စပ်လုပ်ငန်းအား ရွှေသတ္တုဖက်စပ်ဗဟိုကြီးကြပ်မှု ကော်မတီအောက်တွင် ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး စီမံခန့်ခွဲမှုလုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် ရွှေသတ္တုဖက်စပ်ဗဟိုကြီးကြပ်မှု ကော်မတီအောက်တွင် သတလ(၂)နှင့် ကန်ထရိုက်တာတို့၏ ကိုယ်စားလှယ်များ ပါဝင်သော ကွက်မဒေသ**(KM-61)** လုပ်ကွက် ရွှေသတ္တုဖက်စပ်လုပ်ငန်း စီမံခန့်ခွဲရေး ကော်မတီတစ်ခုကို ဖွဲ့စည်းရမည်။

၂၀-၂ အဆိုပါ **(KM-61)** လုပ်ကွက် ရွှေသတ္တုဖက်စပ်လုပ်ငန်း စီမံခန့်ခွဲရေး ကော်မတီသည် လုပ်ငန်းစဉ်များ၊ ဘဏ္ဍာရေးကိစ္စများ၊ စီမံခန့်ခွဲမှုကိစ္စရပ်များ အပါအဝင် စာချုပ်ပါလုပ်ငန်းအရပ်ရပ်ကို နှစ်ဦးနှစ်ဘက် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရမည်။

၂၀-၃ ထိုကော်မတီတွင် အဖွဲ့ဝင် (၅)ဦးပါဝင်ပြီး၊ သတလ(၂) မှ ၃ ဦးနှင့် ကန်ထရိုက်တာမှ ၂ ဦး ပါဝင်စေလျက်၊ သတလ (၂)၏ ကော်မတီဝင် တစ်ဦးသည် ဥက္ကဋ္ဌဖြစ်စေရမည်။ ဥက္ကဋ္ဌမှ ကော်မတီ အတွင်းရေးမှူးတစ်ဦးကို ခန့်ထားရမည်။

၂၀-၄ ကော်မတီသည် ရန်ကုန်မြို့၊ သို့မဟုတ် နှစ်ဘက်သဘောတူညီချက် ရရှိထားသော အခြား သင့်လျော်ရာနေရာတွင်(၃)လတစ်ကြိမ် ညှိနှိုင်းဆွေးနွေးရမည်။ လိုအပ်ပါက ဥက္ကဋ္ဌ သည် အချိန်မရွေး ဤကော်မတီ၏ အစည်းအဝေးကို ခေါ်ယူကျင်းပနိုင်သည်။

၂၀-၅ ကော်မတီဝင်များနှင့် အတွင်းရေးမှူးအတွက် အခကြေးငွေများ (သို့မဟုတ်) အခြားစရိတ် များကို စီမံခန့်ခွဲရေးကော်မတီ၏ အဆုံးအဖြတ်ဖြင့်သာ သတ်မှတ်ဆောင်ရွက်ရမည်။ ယင်း အခကြေးငွေများ (သို့မဟုတ်) အခြားစရိတ်များကို ကန်ထရိုက်တာမှ ကျခံရမည်။

၂၀-၆ စီမံခန့်ခွဲရေးကော်မတီမှ ဆုံးဖြတ်ရန်ခက်ခဲသည့် (သို့မဟုတ်) မဆုံးဖြတ်နိုင်သည့် ကိစ္စရပ် များအား ရွှေသတ္တုဖြက်စပ်ဗဟိုကြီးကြပ်မှု ကော်မတီသို့ တင်ပြဆောင်ရွက်ရမည်။

၂၀-၇ စီမံခန့်ခွဲရေးကော်မတီသည် ရွှေသတ္တုဖြက်စပ်ဗဟိုကြီးကြပ်မှု ကော်မတီမှ အခါအား လျော်စွာ ချမှတ်ထားသော ဆုံးဖြတ်ချက်နှင့် အမိန့်များကို အရေးယူလိုက်နာဆောင်ရွက်ရမည်။

## အပိုင်း (၂၁)
## လုပ်ငန်းကြီးကြပ်ဆောင်ရွက်ခြင်း

၂၁-၁ ကန်ထရိုက်တာသည် မန်နေဂျာတစ်ဦးကို နေ့စဉ် လုပ်ငန်းရပ်များ ကြီးကြပ်ကွပ်ကဲ ဆောင်ရွက်ရန်အတွက် ခန့်ထားရမည်။ မန်နေဂျာသည် စီမံခန့်ခွဲရေးကော်မတီမှ သတ်မှတ် ပေးသော စည်းမျဉ်းဘောင်အတွင်းမှ တာဝန်ယူ၍ လုပ်ငန်းများကို စီမံဆောင်ရွက်ရမည်။

၂၁-၂ သတ္တုတွင်းဝန်ကြီးဌာန၊ ရွှေသတ္တုဖြက်စပ်ဗဟိုကြီးကြပ်မှုကော်မတီမှ တာဝန်ပေးထားသော ကိုယ်စားလှယ်များသည် လိုအပ်သောအချိန်အခါတွင်စာချုပ်အရ လုပ်ကိုင်ခွင့်ရှိသော လုပ်ကွက် ဧရိယာသို့ သွားရောက်၍ လုပ်ငန်းများကို စစ်ဆေးနိုင်သည်။ ကန်ထရိုက်တာသည် ယင်းသို့ စေလွှတ်ခြင်းခံရသော သတ္တုတွင်းဝန်ကြီးဌာန၊ ရွှေသတ္တုဖြက်စပ်ဗဟိုကြီးကြပ်မှုကော်မတီ၏ ကိုယ်စားလှယ်များကို လိုအပ်သလို ကူညီပံ့ပိုးပေးရမည်။

၂၁-၃ ကန်ထရိုက်တာသည် သတလ(၂)မှ တာဝန်ပေးစေလွှတ်သည့်ကိုယ်စားလှယ် (၂)ဦးကို ကွက်မဒေသ **(KM-61)** ၌ ရုံးစိုက်စေပြီး သတ္တုတူးဖော်ခြင်းလုပ်ငန်းများကို စာချုပ်ပါ အတိုင်း ဆောင်ရွက်မှုရှိမရှိ စစ်ဆေးခွင့်ပြုရမည်။

၂၁-၄ ကန်ထရိုက်တာသည် ဤစာချုပ်အပိုဒ် (၂၁-၃)အရ တာဝန်ပေးထားသော သတလ(၂) ကိုယ်စားလှယ်များ၏ သွားလာရေး၊ နေထိုင်ရေး၊ စားသောက်ရေးတို့အတွက် စီမံခန့်ခွဲ ရေးကော်မတီမှ သတ်မှတ်ထားသော ထောက်ပံ့ကြေးငွေများကို ကိုယ်စားလှယ်များအား စီမံဆောင်ရွက်ပေးရမည်။

၂၁-၅ သတလ(၂) ကိုယ်စားလှယ်များသည် ကန်ထရိုက်တာ၏ ကိုယ်စားလှယ်များနှင့် ရှေးသတ္တုများအား ချိန်တွယ်စာရင်းပြုစုခြင်း၊ သတ္တုနမူနာယူခြင်း၊ ထိန်းသိမ်းခြင်းနှင့် ခွဲဝေတင်ပို့မှုတို့ကို ကြီးကြပ်ဆောင်ရွက်ရမည်။ သတ္တုတွင်း၌ ယမ်းနှင့် အပေါင်းပါပစ္စည်းများကို သုံးစွဲပါက မှာယူသုံးစွဲခြင်းကို ကြီးကြပ်ရမည်။

၂၁-၆ အပိုဒ် (၂၁-၁) နှင့် (၂၁-၃) အရစေလွှတ်သည့်ကိုယ်စားလှယ်များသည် ကန်ထရိုက်တာ၏ ပုံမှန်ဆောင်ရွက်နေသော လုပ်ငန်းများကို ဝင်ရောက်စွက်ဖက်ခြင်းမှ ရှောင်ရှားရမည်။

## အပိုင်း (၂၂)
## စာချုပ်ရပ်စဲခြင်း

၂၂-၁ ဤစာချုပ်ကို အောက်ဖော်ပြပါ အချက်အလက်များအနက် တစ်ခုခုဖြစ်ပေါ်လာပါက မည်သည့်ဘက်ကမဆို ရက်ပေါင်း(၉၀) ကြိုတင်သတိပေးပြီး စာချုပ်ရပ်စဲနိုင်သည်-
(က) တူးဖော်မှုလုပ်ငန်းသည် အဆက်မပြတ် ဆုံးရှုံးမှုများ ပေါ်ပေါက်နေခြင်း၊
(ခ) တဖက်ဖက်မှ စာချုပ်ပါ စည်းကမ်းချက်များအား ဖောက်ဖျက်ခြင်း၊
(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုသည် တစ်နှစ်ထက် ကျော်လွန်၍ ဖြစ်ပွားနေခြင်း၊
(ဃ) စာချုပ်ပါစည်းကမ်းအရ သက်တမ်းကုန်ဆုံးခြင်း။

၂၂-၂ ဤသဘောတူစာချုပ်ကို အထက်ပါစည်းကမ်းချက်များအရ လုပ်ငန်းရပ်စဲရာတွင် နှစ်ဦးနှစ်ဖက်ညှိနှိုင်းသဘောတူညီမှုဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။

၂၂-၃ ဤသဘောတူစာချုပ်အား ရပ်စဲခြင်းအားဖြင့် စာချုပ်မရပ်စဲမီ တာဝန်ရှိခဲ့သည့် ကိစ္စရပ်များမှအပ စာချုပ်ပါ ရှေ့ဆက်လက်ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများ၊ လုပ်ပိုင်ခွင့်များ၊ လုပ်ငန်းဆောင်ရွက်ရန် အချက်အလက်များအားလုံး လုံးဝပြီးပြတ်ပြီးဖြစ်သည်ဟုမှတ်ယူရမည်။

## အပိုင်း (၂၃)
## လျှို့ဝှက်ထိန်းသိမ်းခြင်း

၂၃-၁ ကန်ထရိုက်တာသည် ဤသဘောတူစာချုပ်ပါ အချက်အလက်များ၊ စာချုပ်ပါတာဝန်များ၊ လုပ်ငန်းအစီအစဉ်များနှင့် အခြားပတ်သက်ရာ ပတ်သက်ကြောင်း သတင်းအချက်အလက်များကို သတ်မှတ်ထားသည့် ဥပဒေအရခွင့်ပြုထားသည့် ကိစ္စမှအပ လျှို့ဝှက်အဆင့်တွင်ထားရမည်။

## အပိုင်း (၂၄)
## မှတ်တမ်းများ၊ ငွေစာရင်းများနှင့် စာရင်းစစ်ဆေးခြင်း

၂၄-၁ ကန်ထရိုက်တာသည် ဤစာချုပ်ပါလုပ်ငန်းများနှင့် ပတ်သက်သည့် မှတ်တမ်းများ စသည်တို့ကို အများလက်ခံကျင့်သုံးသော စာရင်းဇယား ထားသိုနည်းများအရ စာရင်းများ ထိန်းသိမ်းထားရှိရမည်။

၂၄-၂ ဤသဘောတူစာချုပ်အရ သတလ(၂)သည် ထုတ်လုပ်မှုနှင့် သိုလှောင်မှုမှတ်တမ်းများနှင့် ပတ်သက်၍ စစ်ဆေးခွင့်ရှိသည်။

၂၄-၃ သတလ(၂)သည် လိုအပ်ပါကပြင်ပမှ စာရင်းစစ်တစ်ဦးကို စစ်ဆေးရန် ခန့်ထားနိုင်သည်။ ယင်းစစ်ဆေးရမည့်ကာလသည် သက်ဆိုင်ရာဘဏ္ဍာရေးနှစ် တစ်နှစ်စာသာဖြစ်ရမည်။

## အပိုင်း (၂၅)
## မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၂၅-၁ ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်များပျက်ကွက်ခြင်း သို့မဟုတ် နှောင့်နှေးကြန့်ကြာမှုများဖြစ်ပေါ်လာလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်နှင့်အညီ ဖြစ်ပါက နှစ်ဦးနှစ်ဖက်က ကင်းလွတ်ခွင့်ပြုရမည်။ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် တစ်ဖက်မှ မိမိလိုက်နာဆောင်ရွက်ရမည့် တာဝန်တစ်စိတ် တစ်ဒေသကိုဖြစ်စေ၊ အားလုံးကိုဖြစ်စေ ဆောင်ရွက်ခြင်းမှ ခေတ္တဆိုင်းငံ့ရမည့် အခြေအနေပေါ်ပေါက်လာလျှင် ထိုသို့ဆိုင်းငံ့ရမည့်ဖြစ်ရပ်နှင့် ဖြစ်တန်ရာသည့်ကာလတို့ကို ဖော်ပြလျှက် ထိုဖြစ်ရပ်ပေါ်ပေါက် သည့်နေ့မှ (၁၄)ရက် (တစ်ဆယ့်လေးရက်)အတွင်း နစ်နာသူအခြားတစ်ဖက်သို့စာဖြင့် အကြောင်းကြားရမည်။ ဤသို့အကြောင်းကြားခြင်းကို အခြားတစ်ဖက်မှ အတည်ပြုလက်ခံမှ သာလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး ထိုနစ်နာသော အချိန်ကာလအတွက် တာဝန်ဝတ္တရားများ ရပ်ဆိုင်းရမည်။ ထိုမလွန်ဆန်နိုင်သော အခြေအနေကိုအမြန်ဆုံး ကျော်လွှားနိုင်အောင် ဆောင်ရွက်ရမည်။

၂၅-၂ အပိုဒ် (၂၅-၁)ပါအတိုင်း မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်မှုကို တစ်ဖက်မှ အသိပေးပြီး နှစ်ဦးနှစ်ဖက် အတည်ပြုလက်ခံထားသော ဖြစ်ရပ်များပေါ်ပေါက်လာသည့် ကြန့်ကြာမှုဆုံးရှုံးမှုများအတွက် မည်သည့်ဖက်ကိုမျှ တာဝန်မဖြစ်စေရ၊ မလွန်ဆန်နိုင် သောဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးအန္တရာယ် ကျရောက်မှု၊ ရေကြောင့်ဘေးအန္တရာယ် ကျရောက်မှု၊ သပိတ်မှောက်ခြင်း၊ အလုပ်သမားများ၏နှောက်ယှက်မှုများ၊ စစ်ဖြစ်ပွားခြင်း၊ ပိတ်ဆို့မှု၊ ဆူပူမှု၊ ကူးစက်တတ်သော ရောဂါဖြစ်ပွားမှု၊ မြေပြိုခြင်း၊ ငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျခြင်း၊ မိုးကြီးပစ်ခြင်း၊ ရေကြီးခြင်း၊ ရေလွှမ်းမိုးခြင်း၊ ပေါက်ကွဲခြင်းများနှင့် အခြားအလားတူထိန်းချုပ်၍မရနိုင်သော ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ဖက်ကမျှ ကြိုးပမ်းအားထုတ်ဆောင်ရွက်မှုဖြင့်မျှ တားဆီးမရနိုင်သော ဖြစ်ရပ်များပါဝင်သည်။

## အပိုင်း (၂၆)
## အခြားသယံဇာတပစ္စည်းများ တွေ့ရှိခြင်း

၂၆-၁ ဤစာချုပ်အရ ရွှေသတ္တုတူးဖော်ထုတ်လုပ်နေစဉ် ရွှေသတ္တုမှအပ အခြားဓာတ်သတ္တုပစ္စည်းများနှင့်ကျောက်မျက်ရတနာတို့ကို မိမိလုပ်ကွက်အတွင်း တူးဖော်တွေ့ရှိကြောင်းကန်ထရိုက်တာက သတလ(၂)သို့ ချက်ချင်းအကြောင်းကြားရမည်။ တူးဖော်တွေ့ရှိသော ရွှေသတ္တုမှအပ အခြားဓာတ်သတ္တု ပစ္စည်းများနှင့် ကျောက်မျက်ရတနာများသည် နိုင်ငံတော်ပိုင်ဖြစ်ပြီး ကန်ထရိုက်တာနှင့် လုံးဝမသက်ဆိုင်စေရ။

၂၆-၂ အကယ်၍ ကန်ထရိုက်တာသည် ရွှေသတ္တုတူးဖော်ထုတ်လုပ်မှုလုပ်ငန်းများကို လုပ်ပိုင်ခွင့်ရှိသောဧရိယာအတွင်း ဆောင်ရွက်နေစဉ် အခြားဓာတ်သတ္တုတွေ့ရှိပါက ဆက်လက်လုပ်ဆောင်လိုသည်များကို ကန်ထရိုက်တာ နှင့် သတလ(၂)သို့ ညှိနှိုင်း၍ သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့်သာ ဆက်လက်ဆောင်ရွက်ရမည်။

## အပိုင်း (၂၇)
## အထွေထွေ

၂၇-၁ ဤသဘောတူစာချုပ်သည်သာလျှင် နှစ်ဦးနှစ်ဘက် အတည်ပြုထားသော သဘောတူညီချက်ဖြစ်သည်။ဤကိစ္စနှင့်ပတ်သက်၍ ယခင် နှုတ်ဖြင့်သော်လည်းကောင်း၊စာဖြင့်သော်လည်းကောင်း သဘောတူညီချက်ရှိခဲ့လျှင် ထိုသဘောတူညီချက်များသည် အကျိုးသက်ရောက်မှုမရှိစေရ။

၂၇-၂ ဤသဘောတူစာချုပ်၏ နောက်ဆက်တွဲများသည် ဤသဘောတူစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်ဖြစ်ရမည်။

၂၇-၃ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့်အခြားဆက်သွယ်မှုများကို စာတိုက်၊ စကားပြောကြေးနန်း၊ တဲလက်စ်၊ ကြိုးမဲ့ကြေးနန်း၊ ကြေးနန်းတို့ဖြင့် ပေးပို့သူက ကျသင့်ငွေကြိုတင်ပေးချေ၍ ပေးပို့ရမည်။ ထိုသို့ ဆက်သွယ်ရာတွင် အောက်ဖော်ပြပါ လိပ်စာများအတိုင်း ဆက်သွယ်ဆောင်ရွက်ရမည်။

| | |
|---|---|
| <u>အမှတ် (၂) သတ္တုတွင်းလုပ်ငန်း</u> | <u>ကန်ထရိုက်တာ</u> |
| ဦးဆောင်ညွှန်ကြားရေးမှူး | ဒေါ်နန်းအေးနွန်း |
| အမှတ်(၂) သတ္တုတွင်းလုပ်ငန်း | ဒါရိုက်တာ |
| သတ္တုတွင်းဝန်ကြီးဌာန | ရွှေ(၂၁)ရာစုကုမ္ပဏီလီမိတက် |
| အမှတ်(၉၀)၊ ကံဘဲ့လမ်း၊ | တိုက်(၃)၊ အခန်း (၀၀၃၊၀၀၄၊၀၀၅) |
| ရန်ကင်းမြို့နယ်၊ | မြေညီထပ်၊ ပုဇွန်တောင်ဥယျာဉ်အိမ်ရာ၊ |
| ရန်ကုန်မြို့။ | ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ |

၂၇-၄ တစ်ဘက်က တစ်ဘက်သို့ ဆက်သွယ်သော စာများကို လက်ခံရရှိကြောင်း ပြန်ကြားရပါမည်။

၂၇-၅ စာချုပ်အားလွှဲပြောင်းခြင်း
ကန်ထရိုက်တာသည် သတလ(၂)၏စာဖြင့် ကြိုတင်သဘောတူခွင့်ပြုချက်မရရှိဘဲ စာချုပ်ပါ လုပ်ငန်းအားလုံးအား (ဟို့မဟုတ်) လုပ်ငန်းတစ်စိတ်တစ်ဒေသအား အခြား အဖွဲ့အစည်းသို့ လွှဲပြောင်းခြင်းမပြုလုပ်ရ။

၂၇-၆ စာချုပ်အား ပြင်ဆင်ဖြည့်စွက်ခြင်း
ဤသဘောတူစာချုပ်အား နှစ်ဖက်သဘောတူညီမှုမပါရှိဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း၊ လုံးဝမပြုလုပ်ရ။ ဤသဘောတူစာချုပ်အား ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

၂၇-၇ စာချုပ်အား ပြန်လည်ညှိနှိုင်းခြင်း
စာချုပ်သက်တမ်းအတွင်း၌ သတလ(၂)နှင့် ကန်ထရိုက်တာတို့သည် ကြိုတင်မမျှော်မှန်းနိုင်သောအခြေအနေတစ်ခုခု ပေါ်ပေါက်ပါကနှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ဤစာချုပ်ကို ပြင်ဆင်နိုင်သည်။ သို့သော် စာချုပ်၏ မူလရည်ရွယ်ချက်အား ပျက်ပြယ်စေခြင်းမရှိစေရ။

## အပိုင်း (၂၈)
## အကျိုးသက်ရောက်မှုများ

၂၈-၁ ဤသဘောတူစာချုပ်သည် ဤစာချုပ်ကိုနှစ်ဦးနှစ်ဖက်မှ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ သက်ဝင် အကျိုးသက်ရောက်စေရမည်။

## အပိုင်း (၂၉)
## အစစ်အမှန်ဖြစ်ခြင်း

၂၉-၁ ဤသဘောတူစာချုပ်အား မြန်မာဘာသာဖြင့်ရေးသားပြီး မူရင်း(၂)အုပ်သာရှိ၍တစ်ဖက်စီ၌ တစ်အုပ်စီရှိရမည်။

ဤသဘောတူစာချုပ်အား အထက်တွင်ရေးသားဖော်ပြထားသော ရက်၊ လနှင့်ခုနှစ်တွင် အောက်ပါအတိုင်း နှစ်ဦးနှစ်ဖက် သဘောတူလက်မှတ် ရေးထိုးကြပါသည်။

| | |
|---|---|
| (ဦးတင်ဝင်း) | (ဒေါ်နန်းအေးနွန်း) |
| ဦးဆောင်ညွှန်ကြားရေးမှူး | ဒါရိုက်တာ |
| အမှတ်(၂) သတ္တုတွင်းလုပ်ငန်း | ရွှေ(၂၁)ရာစုကုမ္ပဏီလီမိတက် |
| သတ္တုတွင်းဝန်ကြီးဌာန | တိုက်(၃)၊ အခန်း (၀၀၃၊၀၀၄၊၀၀၅) |
| အမှတ်(၉၀)၊ ကံဘဲ့လမ်း၊ | မြေညီထပ်၊ ပုဇွန်တောင်ဥယျာဉ်အိမ်ရာ၊ |
| ရန်ကင်းမြို့နယ်၊ | ပုဇွန်တောင်မြို့နယ်၊ |
| ရန်ကုန်မြို့။ | ရန်ကုန်မြို့။ |

ကျွန်ုပ်တို့၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးပါသည်။

## အသိသက်သေများ

| | | | |
|---|---|---|---|
| ၁။ အမည် | ----------- | ၁။ အမည် | ----------- |
| ၂။ ရာထူး | ----------- | ၂။ ရာထူး | ----------- |
| ၃။ မှတ်ပုံတင်အမှတ် | ----------- | ၃။ မှတ်ပုံတင်အမှတ် | ----------- |
| ၄။ ဌာနနေရာ | ----------- | ၄။ ဌာနနေရာ | ----------- |
| | ----------- | | ----------- |
| | ----------- | | ----------- |

နောက်ဆက်တွဲ (ဃ)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ........၁၃၉၃........ /၁၉၉၈ – ၁၉၉၉

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဟုံရိန်မိုင်းနင်း ကုမ္ပဏီလီမိတက်
.................................... အား ပေးရန်တာဝန်ကန့်သတ်ထားသောလီမိတက်
ကုမ္ပဏီအဖြစ် ၁၉၉၉ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၅ ရက်နေ့တွင်မှတ်ပုံတင်ခွင့်ပြုလိုက်သည်။



( သိင်္ဂီတင် )
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

* * *

**THE GOVERNMENT OF THE UNION OF MYANMAR**
**MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT**

# CERTIFICATE OF INCORPORATION

**No.** ......1393...... **of 19**98**-19**99

*I here by certify that* HONG REN MINING COMPANY LIMITED .................................... *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* TWENTY FIFTH *day of* FEBRUARY *one thousand nine hundred and* NINETY NINE

( THEINGI TIN )
**Registrar of Joint Stock Companies**
**Companies Registration Office**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ယုံရိန် မိုင်းနင်း ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memoandum Of Association

*AND*

# Articles Of Association

*OF*

# YONG REN MINING COMPANY LIMITED

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

**အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ**

# ယုံရိန် မိုင်း နင်း ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း



ကုမ္ပဏီ၏ အမည်သည် " ယုံရိန် မိုင်း နင်း ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် ကျပ်၀၀ ၀၀၀ ၀၀၀ /-(ကျပ် သန်း ငါး ရ ၁ တိတိ) ဖြစ်၍ ငွေကျပ်၀ ၀၀၀ /-(ကျပ် တစ် သောင်း တိတိ) တန် အစုရှယ်ယာပေါင်း၅(၀ ၀ ၀ ၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

- (က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
- (ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
- (ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
- (ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
- (င) ဓာတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊
- (စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
- (ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
- (ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဌ) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- (ဍ) ဆေးဝါးထုတ်လုပ်ခြင်း၊
- (ဎ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

*(၈) သက်ဆိုင်ရာအာဏာပိုင်၏ ခွင့်ပြုချက်နှင့်အညီ မြန်မာနိုင်ငံအတွင်း ရှိသ ~~[illegible]~~ များကိုတူး ဖော်ထုတ်လုပ်ခြင်း နှင့် ~~[illegible]~~ သို့မဟုတ် အဆိုပါထုတ်လုပ်မှုလုပ်ငန်းများကိုထုတ်လုပ်မှုအပေါ် ခွဲဝေခံစားမှုစနစ်ဖြင့် ဆောင်ရွက်ရန်နှင့် ပြည်တွင်းပြည်ပသို့ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ရန်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ်။ | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးဂမ်ယို<br>အမှတ်-က-၄၊တ-(၇)ရပ်ကွက်၊<br>မြို့သစ်၊ ချမ်းမြသာစည်မြို့နယ်၊<br>မန္တလေးတိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၃/လရန<br>(နိုင်)<br>၀၉၆၄၈၁ | | |
| ၂။ | ဒေါ်နန်းအေးနွန်း<br>အမှတ်-က-၄၊တ-(၇)ရပ်ကွက်၊<br>မြို့သစ်၊ ချမ်းမြသာစည်မြို့နယ်၊<br>မန္တလေးတိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၃/လရန<br>(နိုင်)<br>၀၉၆၄၈၇ | | |
| ၃။ | ဦးမောင်အေး<br>အမှတ်-၃၄၁/၂၇၊၈၂×၈၃လမ်း နှင့်<br>၃၂×၃၃လမ်းကြား၊<br>ဂုံဘန်းဝင်း၊ အရှေ့ဘောင်နန်း၊<br>ချမ်းအေးသာဇံမြို့နယ်၊<br>မန္တလေးတိုင်း။<br>(ကုန်သည်) | မြန်မာ<br>၉/မရမ<br>(နိုင်)<br>၀၇၁၃၆၇ | | |
| ၄။ | ဦးသွန်းမြင့်<br>အမှတ်-၁၆/၂၆၊ သိန္နီလမ်း၊<br>ရပ်ကွက်-၈၊ လားရှိုးမြို့နယ်၊<br>ရှမ်းပြည်မြောက်ပိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၃/လရန<br>(နိုင်)<br>၁၀၀၁၉၀ | | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၈ ခုနှစ်၊ ဒီဇင်ဘာ လ၊ ၂၁ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဦးသိန်းစိုး
ဘီကွမ်း(စီပီအေ)
လက်မှတ်ရပြည်သူ့စာရင်းကိုင်

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

## ယုံရိန် မိုင်း နင်း ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၅၀၀ ၀၀၀ ၀၀၀ /-(ကျပ်
သန်း ငါး ရာ တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ /-(ကျပ်
ငါး သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

